ကုမ္ပဏီအမည် - Silamas (Myanmar) Co., Ltd.

လုပ်ငန်း - Conducting services, studies, engineering, lifting and relocation of infrastructure components

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြည်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၃၁-၁၂-၂၀၁၆ | | |
| ၂ | အဆိုပြုချက်ပါလိုအပ်သည့်အချက်အလက်များအား ပြင်ဆင်တင်ပြရန်ကုမ္ပဏီသို့အကြောင်းကြားခြင်း | ၁၀-၁-၂၀၁၇ | | |
| ၃ | ကုမ္ပဏီမှအဆိုပြုလွှာပြင်ဆင်တင်ပြလာခြင်း | ၂၆-၂-၂၀၁၇ | | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး၇/၂၀၁၇သို့ တင်ပြခြင်း | ၆-၃-၂၀၁၇ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၂၀-၃-၂၀၁၇ | | |
| ၆ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၅-၃-၂၀၁၇ | ၂၉-၃-၂၀၁၇ | |
| | (ခ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန | ၂၀-၃-၂၀၁၇ | ၄-၄-၂၀၁၇ | |
| | (ဂ) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန | ၁၅-၃-၂၀၁၇ | ၃၀-၃-၂၀၁၇ | |
| | (ဃ) ဆောက်လုပ်ရေးဝန်ကြီးဌာန | ၁၅-၃-၂၀၁၇ | ၂၅-၄-၂၀၁၇ | |
| | (င) မြန်မာနိုင်ငံတော်ဗဟိုဘဏ် | ၁၅-၃-၂၀၁၇ | ၁၂-၄-၂၀၁၇ | |
| ၇ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၆-၄-၂၀၁၇<br>၂၅-၄-၂၀၁၇<br>၃-၅-၂၀၁၇ | | |
| ၈ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂၄-၅-၂၀၁၇ | | |
| ၉ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း (၉/၂၀၁၇)MIC | ၁၆-၆-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၁၆၉ ရက်** | | | |

| | |
|---|---|
| ကုမ္ပဏီအမည် | **Silamas (Myanmar) Co., Ltd.** |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | Conducting services, studies, engineering, lifting and relocation of infrastructure components |
| တည်နေရာ | ရန်ကုန်တိုင်းဒေသကြီး၊ တောင်ပိုင်းခရိုင်၊ သန်လျင်မြို့နယ်၊ ညောင်သုံးပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် ၆၆၈၊ မိုးကောင်းကွင်း၊ ဦးပိုင်အမှတ် ၂၀/ခ၊ ၂၁/က ရှိမြေ (၂.၆၅)ဧက |
| စုစုပေါင်းမတည်ငွေရင်း | အမေရိကန်ဒေါ်လာ ၅.၀၀ သန်း |
| လုပ်ငန်းသက်တမ်း | ကနဦး ၁၀ နှစ် |
| တည်ဆောက်ရေးကာလ | ၂ နှစ် |

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ **Cost & Benefit** ကိုအောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀သန်း(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၀.၅၀ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၆.၀၇ သန်း | - |
| ၄ | ဝင်ငွေခွန် | - | ကျပ် ၁.၃၇ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၀.၁၁ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | - |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ကျပ် ၁၆.၃၀ သန်း<br>တစ်နှစ်ဝင်ငွေကျပ် သိန်း(၄၈)<br>ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း<br>(၂၀)ဦး |
| ၈ | CSR(၂%) | - | ကျပ် ၀.၁၄ သန်း |
| ၉ | မြေငှားရမ်းခငွေ | - | ကျပ် ၂၄.၀၀ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | - | ပြည်တွင်းလုပ်သား<br>(၂၃)ဦးအလုပ်အကိုင်ရရှိမည်ဖြစ်၍<br>ဒေသအလုပ်အကိုင် အခွင့် အလမ်းနှင့်<br>ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုကို<br>အထောက် အကူပြုစေပါသည်။ |
| | | **ကျပ် ၉.၀၇ သန်း** | **ကျပ် ၄၂.၄၂ သန်း** |
| | | **၁ း ၄** | |

**Silamas (Myanmar) Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Conducting services, studies, engineering, lifting and relocation of infrastructure components လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | မှတ် ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | Silamas (Myanmar) Co., Ltd. | Conducting services, studies, engineering, lifting and relocation of infrastructure components | ၇/၂၀၁၇ (၆-၃-၂၀၁၇) | (က)လုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြရန်။ | ပြင်ဆင်ပြီး ဖြစ်ပါသည်။ | |

## Silamas (Myanmar) Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Conducting services, studies, engineering, lifting and relocation of infrastructure components လုပ်ငန်းနှင့်စပ်လျဉ်းသည့်အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Silamas (Myanmar) Co., Ltd.<br>- Mr. Patrick Michael Dick |
| ၂။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - ထိုင်းနိုင်ငံ Silamas Transport Co., Ltd. မှ ၆၀ %<br>ထိုင်းနိုင်ငံ Mr. Patrick Michael Dick မှ ၃၀ %<br>မြန်မာနိုင်ငံ ဦးရဲဖုန်းလှိုင် မှ ၁၀ % |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - Conducting services, studies, engineering, lifting and relocation of infrastructure components |
| ၄။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း<br><br>ကုမ္ပဏီတည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ တောင်ပိုင်းခရိုင်၊ သန်လျင်မြို့နယ်၊ ညောင်သုံးပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် ၆၆၈၊ မိုးကောင်းကွင်း၊ ဦးပိုင် အမှတ် ၂၀/ခ၊ ၂၁/က ရှိမြေ (၂.၆၅)ဧက<br>- အမှတ် ၂၁၊ အခန်းအမှတ်-၀၁၊ ရွှေအုန်းပင်အိမ်ရာ၊ ရန်ရှင်းလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့ရှိ ဧရိယာ (၁၅၅ စတုရန်းမီတာ) |
| ၅။ | မြေပိုင်ရှင် | - ဒေါ်စန်းစန်းဌေး |
| ၆။ | မြေအမျိုးအစား | - ဂရန်မြေ |
| ၇။ | နှစ်စဉ်မြေငှားရမ်းခ | - ကနဦး (၁)နှစ်၊ ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက (၁၀)နှစ် ငှားရမ်းခြင်းစာချုပ် ချုပ်ဆိုမည်ဖြစ်ပါသည်။<br>- မြေဧရိယာ (၂.၆၅)ဧကအား တစ်လလျှင် ကျပ် သိန်း ၂၀ နှုန်းဖြင့် ငှားရမ်းဆောင်ရွက်မည်ဖြစ်ပါသည်။ |
| ၈။ | မြေငှားစာချုပ်သက်တမ်း | - ၁၀ နှစ် |
| ၉။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား | - အမေရိကန်ဒေါ်လာ ၅.၀၀ သန်း |

| | နိုင်ငံခြား (US$ သန်း) | မြန်မာ (US$ သန်း) | | စုစုပေါင်း (US$သန်း) |
|---|---|---|---|---|
| | | US$ သန်း | ညီမျှသော ကျပ်သန်း | |
| ငွေသား | ၀.၄၀ | ၀.၅၀ | ၆၈၅.၀၀ | ၀.၉၀ |
| စက်ပစ္စည်း | ၄.၁၀ | - | - | ၄.၁၀ |
| **စုစုပေါင်း** | ၄.၅၀ | ၀.၅၀ | ၆၈၅.၀၀ | ၅.၀၀ |

စုစုပေါင်းမတည်ငွေရင်း အမေရိကန်ဒေါ်လာ ၅.၀၀ သန်းတွင် အတိုးနှုန်း ၅ % ဖြင့် Shareholder loan အမေရိကန်ဒေါ်လာ ၀.၂၅ သန်းပါဝင်ပါသည်။

| | | |
|---|---|---|
| ၁၀။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၁၁။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး ၁၀ နှစ် |

| | | |
|---|---|---|
| ၁၂။ | ဝန်ဆောင်ခနှုန်း (အဋ္ဌမမြောက်နှစ်) | ခန့်မှန်း:Project အရေအတွက်: ၁၈ ; ဝန်ဆောင်ခနှုန်း US$/Project: ၂၁၆,၃၀၀ ; ဝင်ငွေ US$ (သန်း): ၄.၇၅၉ ; ကျပ်(သန်း): ၆,၅၁၉.၃၁ |
| ၁၅။ | ဝင်ငွေ(အဋ္ဌမမြောက်နှစ်)<br>အသုံးစရိတ်(အဋ္ဌမမြောက်နှစ်)<br>အသားတင်အမြတ်(အဋ္ဌမမြောက်နှစ်) | - US$ ၄.၇၅၉ သန်း<br>- US$ ၃.၈၄၄ သန်း<br>- US$ ၀.၉၁၅ သန်း |
| ၁၆။ | နိုင်ငံတော်မှ ရရှိမည့်<br>အကျိုးအမြတ်(အဋ္ဌမမြောက်နှစ်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- US$ ၀.၃၁ သန်း<br>- US$ ၀.၂၄ သန်း |
| ၁၇။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br><br>ပြည်ပ | - ၂၇ ဦး<br>၂၃ ဦး (တစ်လလျှင် ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ မှာ အမေရိကန်ဒေါ်လာ ၂၀၀ ဖြစ်၍အမြင့်ဆုံးလစာမှာ အမေရိကန် ဒေါ်လာ ၃,၀၀၀ ဖြစ်ပါသည်။)<br>၄ ဦး(တစ်လလျှင် ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ မှာ အမေရိကန်ဒေါ်လာ ၁,၀၀၀ ဖြစ်၍ အမြင့်ဆုံး လစာမှာ အမေရိကန် ဒေါ်လာ ၅,၀၀၀ ဖြစ်ပါသည်။) |
| ၁၈။ | အရင်းကြေကာလ<br>အရင်းအနှီးပေါ်အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | - ၉ နှစ်<br><br>- ၉ % |
| ၁၉။ | ငွေကြေးအထောက်အထား | - ငွေကြေးအထောက်အထားအဖြစ် bank coop ၌ Mr. Patrick Dick အမည်ဖြင့် ၂၁-၁၂-၂၀၁၆ ရက်စွဲဖြင့် US$ ၁၆၇,၁၅၉.၉၈ နှင့် AYA Bank ၌ ဦးရဲဖုန်းလှိုင်အမည်ဖြင့် မြန်မာကျပ်ငွေ ၇၄၅,၇၁၃,၁၇၄.၆၈ ရှိကြောင်းတင်ပြထားပါသည်။ |
| ၂၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု<br>(တစ်နှစ်လျှင်) | - နှစ်စဉ်လျှပ်စစ်ဓာတ်အား လိုအပ်ချက်အနေဖြင့် ၄၀,၀၀၀ kWh/year ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၂၁။ | CSR အစီအစဉ် | - ကုမ္ပဏီ၏ နှစ်စဉ်ရရှိသော အမြတ်ငွေမှ ၂ % အား လူမှုရေးတာ ဝန်ယူမှု ပူးပေါင်းဆောင်ရွက်မှု ရန်ပုံငွေအဖြစ် ထားရှိမည်ဖြစ် ကြောင်းတင်ပြ ထားပါသည်။ |
| ၂၂။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှု<br>အစီအစဉ် | - သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ ပြဋ္ဌာန်းထားသော သတ်မှတ်ချက်များအား လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်းနှင့် သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း ဆောင်ရွက်မည့် အစီအစဉ်ကို တင်ပြထားပါသည်။ |
| ၂၃။ | မီးဘေးကာကွယ်ရေးစီမံချက် | - မီးဘေးကာကွယ်ရေးစီမံချက် ရေးဆွဲတင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၂၄။ | အခြားတင်ပြချက်များ | (က) အဆိုပြုချက်နှင့်အတူ ကုမ္ပဏီရုံးခန်းအဖြစ် ဆောင်ရွက်မည့် အခန်းနေရာအတွက်အခန်းပိုင်ရှင် မသန္တာဝင်းနှင့် ကိုနေလင်းတင်မောင်နိုင်တို့ချုပ်ဆိုထားသည့် အခန်းငှားရမ်းခြင်းစာချုပ်၊ Silamas (Myanmar) Co., Ltd. နှင့် ကိုနေလင်းတင်မောင်နိုင်တို့ ချုပ်ဆိုမည့် အခန်းထပ်ဆင့် ငှားရမ်းခြင်း စာချုပ်(မူကြမ်း )၊ Silamas Transport Co., Ltd. မှ Mr. Teerachan၊ Mr. Patrick Michael Dick နှင့် ဦးရဲဖုန်းလှိုင် တို့အကြား ချုပ်ဆိုမည့် JV စာချုပ်(မူကြမ်း)၊ မြေပိုင်ရှင် ဒေါ်စန်းစန်းဌေး နှင့် Silamas Transport Co., Ltd. တို့ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း) နှင့် Silamas Transport Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ MOA ၊ AOA နှင့် ဒါရိုက်တာ စာရင်းတို့အား တင်ပြထားပါသည်။<br>(ခ) မြေပိုင်ရှင် ဒေါ်စန်းစန်းဌေး နှင့် Silamas Transport Co., Ltd. တို့ချုပ်ဆိုမည့် ၁ နှစ် သက်တမ်းရှိ မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း) နှင့် မြေစာရင်းပုံစံ ၁၀၅ နှင့် လယ်ယာမြေ အခြားနည်း အသုံးပြုခွင့် ပုံစံ(၁၅) ရရှိထားကြောင်း တင် ပြထားပြီး မြေငှားရမ်းခနှုန်းမှာ တစ်လလျှင် ကျပ်သိန်း ၂၀ နှုန်း ဖြင့် ငှားရမ်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>(ဂ) ဝန်ထမ်း လုပ်သားများ၏ လူမှုဖူလုံရေး၊ သက်သာချောင်ချိမှု ဆောင်ရွက်မည့်အစီအစဉ်ကို တင်ပြထားပါသည်။ |
| ၂၅။ | **စိစစ်တင်ပြချက်** | (က) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့် တင်ပြလာခြင်း နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်း ဒေသကြီးအစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့်မြန်မာနိုင်ငံတော်ဗဟိုဘဏ်တို့သို့ သဘောထားမှတ်ချက်တောင်းခံခဲ့ပြီး သက်ဆိုင်ရာဌာနများမှ ကန့်ကွက်ရန် မရှိကြောင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်။<br>(ခ) စုစုပေါင်း မတည်ငွေရင်း အမေရိကန်ဒေါ်လာ ၅ သန်းအနက် ပြည်ပမှ အမေရိကန်ဒေါ်လာ ၄.၀၅၅ သန်း တန်ဖိုးရှိ ယာဉ်ယန္တရားနှင့် စက်ပစ္စည်းကိရိယာများကို တင်သွင်း ဆောင်ရွက်မည်ဖြစ်ပါသည်။<br>(ဂ) ဝင်ငွေ၊ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်နှင့် အရင်းအနှီး အပေါ်အကျိုးပြန်ပေါ်နှုန်းတို့မှာ ကုမ္ပဏီမှ တင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅(အ)/န-၀၂၈/၂၀၁၇( ၂၇၄ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇွန် လ ၁၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **Silamas (Myanmar) Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Conducting services, studies, engineering, lifting and relocation of infrastructure components လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Silamas (Myanmar) Co., Ltd. ၏ ၃၀-၁၂-၂၀၁၆ ရက်စွဲပါ တင်ပြစာ

၁။ ထိုင်းနိုင်ငံ Silamas Transport Co., Ltd. မှ ၆၀ %၊ ထိုင်းနိုင်ငံသား Mr. Patrick Michael Dick မှ ၃၀% နှင့် မြန်မာနိုင်ငံ ဦးရဲဖုန်းလှိုင် မှ ၁၀ % ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြား ကုမ္ပဏီ Silamas (Myanmar) Co., Ltd. တည်ထောင်ကာရန်ကုန်တိုင်းဒေသကြီး၊ တောင်ပိုင်းခရိုင်၊ သန်လျင်မြို့နယ်၊ ညောင်သုံးပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် ၆၆၈၊ မိုးကောင်းကွင်း၊ ဦးပိုင်အမှတ် ၂၀/ခ၊ ၂၁/က ၊ မြေဧရိယာ ၁.၅၃၇ ဧကတွင် Conducting services, studies, engineering, lifting and relocation of infrastructure components လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရည်ညွှန်းပါစာဖြင့် အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ကုမ္ပဏီရုံးခန်းအဖြစ် ဆောင်ရွက်မည့် အခန်းနေရာအတွက်အခန်းပိုင်ရှင် မသန္တာဝင်း နှင့် ကိုနေလင်းတင်မောင်နိုင် တို့ချုပ်ဆိုထားသည့် အခန်းငှားရမ်းခြင်းစာချုပ်၊ Silamas (Myanmar) Co., Ltd. နှင့် ကိုနေလင်းတင်မောင်နိုင်တို့ ချုပ်ဆိုမည့် အခန်းထပ်ဆင့် ငှားရမ်းခြင်း စာချုပ် (မူကြမ်း)၊ Silamas Transport Co., Ltd. မှ Mr. Teerachan၊ Mr. Patrick Michael Dick နှင့် ဦးရဲဖုန်းလှိုင် တို့အကြား ချုပ်ဆိုမည့် JV စာချုပ် (မူကြမ်း)၊ မြေပိုင်ရှင် ဒေါ်စန်းစန်းဌေး နှင့် Silamas Transport Co., Ltd. တို့ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း) နှင့် Silamas Transport Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ MOA ၊ AOA နှင့် ဒါရိုက်တာစာရင်းတို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ တောင်ပိုင်းခရိုင်၊ သန်လျင်မြို့နယ်၊ ညောင်သုံးပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် ၆၆၈၊ မိုးကောင်းကွင်း၊ ဦးပိုင်အမှတ် ၂၀/ခ၊ ၂၁/က ရှိမြေ ၂.၆၅ ဧက (၁၀,၇၂၄.၁၇ စတုရန်းမီတာ) အားတစ်နှစ်လျှင် တစ်လလျှင် ကျပ် သိန်း ၂၀ နှုန်းဖြင့် ငှားရမ်းဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ (၁၀) နှစ်သက်တမ်း ရှိ မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း) အား ပူးတွဲတင်ပြထားပါ သည်။

၄။ လုပ်ငန်းသက်တမ်းကာလမှာ ကနဦး (၁၀)နှစ် ဖြစ်၍ တည်ဆောက်ရေးကာလမှာ( ၂ )နှစ်ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၅.၀၀ သန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ ၄.၀၅၅ သန်း တန်ဖိုးရှိ ယာဉ်ယန္တရားနှင့် စက်ပစ္စည်းကိရိယာများအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | | နိုင်ငံခြား(US$ သန်း) | မြန်မာ(US$ သန်း) | စုစုပေါင်း(US$သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၀.၄၀ | ၀.၅၀ | ၀.၉၀ |
| (ခ) | စက်ပစ္စည်း | ၄.၁၀ | - | ၄.၁၀ |
| | **စုစုပေါင်း** | **၄.၅၀** | **၀.၅၀** | **၅.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၂၃) ဦး နှင့် ပြည်ပဝန်ထမ်း (၄)ဦးခန့်ထား ဆောင်ရွက်မည်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ မှာ အမေရိကန်ဒေါ်လာ ၂၀၀ ဖြစ်၍ အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ မှာ အမေရိကန်ဒေါ်လာ ၁,၀၀၀ ဖြစ်၍ အမြင့်ဆုံးလစာမှာ အမေရိကန် ဒေါ်လာ ၅,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ်(ဆင္ဓမမြောက်နှစ်)တွင် ဝန်ဆောင်မှုပေးမည့် ဝန်ဆောင်ခနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ခန့်မှန်း:Project အရေအတွက် | ဝန်ဆောင်ခနှုန်း: US$/Project | US$ (သန်း) |
|---|---|---|
| ၁၈ | ၂၁၆,၃၀၀ | ၄.၇၅၉ |

၈။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (အင္ဓမမြောက်နှစ်)တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄.၇၅၉ |
| (ခ) | အသုံးစရိတ် | ၃.၈၄၄ |
| (ဂ) | အသားတင်အမြတ် | ၀.၉၁၅ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (အင္ဓမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၀.၃၁ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် US$ ၀.၂၄ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၉)နှစ် ဖြစ်၍ အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၉) ရာခိုင်နှုန်းဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာ ပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

၂၀၁၇ ခုနှစ် မတ်လ ၂၃ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၁/၂၀၁၇) **ဆုံးဖြတ်ချက်အရ ကန့်ကွက်ရန် မရှိပါကြောင်း** သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေ

မည့် နည်းစနစ်များအား အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – CSR) အတွက် အသားတင်အမြတ်ငွေ ၏(၂%)အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် Machinery Waste, Electrical Waste နှင့် Chemical Waste များကို မည်သို့ ထိန်းသိမ်း ဆောင်ရွက်သွားမည် စသည့်လုပ်ငန်း ဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည် တို့ပါဝင်သည့် **စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ် (Waste Management Plan-WMP)**ကို ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များ နှင့်အညီ အစီရင်ခံရေးသားတင်ပြရန်၊ စီမံကိန်း ဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု)လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်း ညွှန်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြမည့်အစီအစဉ်အလိုက် လို အပ်သည့်ပုံစံများကို ဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန် သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီး ဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများကိုလိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ပါ ကြောင်းတင်ပြထားပါသည်။)**

(ဂ) **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းအပေါ် **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိ ပါကြောင်း** သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ဃ) **ဆောက်လုပ်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဃ)**

ကုမ္ပဏီမှဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းမှာ သယ်ယူပို့ဆောင်ရေး လုပ်ငန်းဖြစ်သဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင် လမ်းများပေါ်တွင် ဖြတ်သန်းသွားပါက သတ် မှတ်ထားသည့် (ယာဉ်+ကုန်)အလေးချိန်အတိုင်းသာ ဖြတ်သန်းရန်၊ တံတားများပေါ်သို့ ဖြတ်သန်းရာတွင် အများဆုံးဝင်ရိုး အလေးချိန် (၁၀)တန် နှင့် ယာဉ်တစ်စီးချင်း အများဆုံး (၆၀) Metric Ton Truck ဖြတ်သန်းရန်၊ ခံနိုင်ဝန် သတ်မှတ်ထားသော တံတားများအား သတ်မှတ်ခံနိုင်ဝန် အတွင်းသာ စက်/ယာဉ်/ယန္တရားများ ဖြတ်သန်းရန်၊ သတ်မှတ်ထားသော အလေးချိန်ထက် ပိုမိုတင်

ဆောင်လာသော တန်ပိုများအား (၁-၄-၂၀၁၇)ရက်နေ့မှ စတင်၍ ဖြတ်သန်းခြင်းမပြုရန်၊ ဖြတ်တောက်၍ မရသောပစ္စည်းများ (ဥပမာ- စက်ပစ္စည်းများ၊ Transformer ကြီးများ) သယ်ဆောင်နိုင်ရန်အတွက် တန်ပိုကြေးအား B.O.T လမ်းပိုင်းများ၌ တစ်တန်တစ်မိုင် လျှင်(၄၀၀)ကျပ် နှုန်းဖြင့် လည်းကောင်း၊ လေလလံလမ်းပိုင်းများ၌ တစ်တန်တစ်မိုင်လျှင်(၂၀၀) ကျပ်နှုန်းဖြင့် လည်းကောင်း သယ်ဆောင်ရန် သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **(ကော်မတီမှ ဆောက်လုပ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။)**

(င) **မြန်မာနိုင်ငံတော်ဗဟိုဘဏ်** **(နောက်ဆက်တွဲ-င)**

Form 1 အရ အဆိုပြုရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၅ သန်းဖြစ်ပြီး Annex 1 အရ Proposed Paid-up Capital မှာ အမေရိကန်ဒေါ်လာ ၀.၂၅ သန်း ဖြစ်ကြောင်း၊ ပြည်ပချေးငွေရယူမည့် လုပ်ငန်းအနေဖြင့် ပြည်တွင်းသို့ ငွေသား အဖြစ်လွှဲပို့မည့် Equity ပမာဏ အနည်းဆုံး အမေရိကန်ဒေါ်လာ ၅၀၀,၀၀၀ ရှိသင့်ပြီး၊ Equity ပမာဏ၏ အနည်းဆုံး ၈၀ % ကို သက်ဆိုင်ရာ ဘဏ် က တစ်ဆင့် ပြည်ပမှ လွှဲပို့ပြီးဖြစ်ရန်၊ ပြည်ပချေးငွေပမာဏ၏ အနည်းဆုံး ၅၀ % ကို ငွေသားအဖြစ် သက်ဆိုင်ရာ ဘဏ်မှတစ်ဆင့် ပြည်ပမှ လွှဲပို့ရမည်ဖြစ်ပြီး ပြည်ပမှ ဝယ်ယူမည့် ပစ္စည်းများကို ပြည်တွင်းရှိ ဘဏ်များက တစ်ဆင့် ငွေပေးချေ၍ ဝယ်ယူတင်သွင်းရန်၊ ကုမ္ပဏီမှရယူလိုသည့် ချေးငွေ အမေရိကန်ဒေါ်လာ ၂၅၀,၀၀၀ ကို In-kind သို့မဟုတ် In-cash ဖြစ်ကြောင်း ခွဲခြားဖော်ပြထားခြင်းမရှိသဖြင့် In-kind ဖြစ်ပါက ၎င်းပစ္စည်း၏ တန်ဖိုးမှန်ကန်ကြောင်း Third-party valuation assessment တင်ပြခြင်း (သို့မဟုတ်) ပြည်ပချေးငွေကို ပြည်တွင်းသို့ သက်ဆိုင်ရာဘဏ်က တစ်ဆင့်လွှဲပို့ပြီး ပြည်တွင်းရှိ ဘဏ် တစ်ခုခုမှ တစ်ဆင့် Letter of Credit ဖြင့် ပြည်ပမှ ဝယ်ယူတင်သွင်းခြင်းတို့ဖြင့် သာ ပြည်ပချေးငွေကို ရယူရန်၊ Shareholder Loan ချေးငွေ အနေဖြင့် အမေရိကန်ဒေါ်လာ ချေးငွေအပေါ် အမြင့် ဆုံး အတိုးနှုန်း ၅ % (p.a) သို့မဟုတ် LIBOR + ၃.၅ % ကိုသာ သတ်မှတ်ကောက်ခံရန်၊ နိုင်ငံခြားငွေဖြင့် ချေးငွေပြန်လည်ဆပ်နိုင်မည့် Business Plan ကို တင်ပြရမည်ဖြစ်ပြီး ၎င်း Business Plan တွင် နိုင်ငံခြားငွေလဲလှယ်နှုန်းအပြောင်းအလဲ ± ၂၀ % ဖြစ်ပေါ်မှု ကို Sensitivity Analysis ဖြင့်ထည့်သွင်းတွက်ချက်ရန် သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက် နှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။)**

၁၁။ ငွေကြေးအထောက်အထားအဖြစ် bank coop ၌ Mr. Patrick Dick အမည်ဖြင့် ၂၁-၁၂-၂၀၁၆ ရက်စွဲဖြင့် US$ ၁၆၇,၁၅၉.၉၈ နှင့် AYA Bank ၌ ဦးရဲဖုန်းလှိုင် အမည်ဖြင့် မြန်မာကျပ်ငွေ ၇၄၅,၇၁၃,၁၇၄.၆၈ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ ကုမ္ပဏီမှ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအတွက် မီးသတ်ဆေးဘူးများ ထားရှိမည်ဖြစ်ပြီး၊ ဝန်ထမ်းများအား မီးဘေးအရေးပေါ်ကာကွယ်နိုင်ရန် အရေးအပေါ်မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးခြင်း ဆောင်ရွက်မည်ဖြစ်ကြောင်း မီးဘေးအန္တရာယ်ကာကွယ်ရေးစီမံချက် ရေးဆွဲတင်ပြထားပါသည်။

၁၃။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်၊ ဝန်ထမ်းများအတွက် လစာဝင်ငွေခွန် ပေးဆောင်မည့် အစီအစဉ်၊ လျှပ်စစ်ဓါတ်အားသုံးစွဲမှုအစီအမံတို့ကို တင်ပြထားပြီး လူမှုဘဝသာယာဝပြောရေး (Corporate Social Responsibility -CSR)အတွက် အသားတင်အမြတ်၏ ၂ % အား ပညာရေး၊ ကျန်းမာရေး၊ နည်းပညာဖွံ့ဖြိုးရေး နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးတို့အတွက် အသုံးပြုဆောင်ရွက် သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် မတ်လ ၆ ရက် နေ့တွင် ကျင်းပပြုလုပ်သော (၇/၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ပါ အတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၆ ရက်နေ့ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ အရ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆိုပြုချက် တင်ပြလာခြင်းဖြစ်ပါသည်။

(ခ) ပြည်ပမှ အမေရိကန်ဒေါ်လာ ၄.၀၅၅ သန်း တန်ဖိုးရှိ ယာဉ်ယန္တရားနှင့် စက်ပစ္စည်းကိရိယာများကို တင်သွင်း ဆောင်ရွက်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ Silamas (Myanmar) Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Conducting services, studies, engineering, lifting and relocation of infrastructure components လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဉက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

M4-0249
31.3.17



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**



စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၂၉ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅.၃.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ န-၀၂၈/၂၀၁၇(၁၁၀)

၁။ ထိုင်းနိုင်ငံ Silamas Transport Co., Ltd. မှ ၆၀%၊ ထိုင်းနိုင်ငံသား Mr. Patrick Michael Dick မှ ၃၀%နှင့် မြန်မာနိုင်ငံ ဦးရဲဖုန်းလှိုင် မှ ၁၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားကုမ္ပဏီ Silamas (Myanmar) Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်တောင်ပိုင်းခရိုင်၊ သန်လျင်မြို့နယ်၊ ညောင်သုံးပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၆၆၈၊ မိုးကောင်းကွင်း၊ ဦးပိုင်အမှတ်-၂၀/ခ၊ ၂၁/က၊ မြေဧရိယာ ၁.၅၃၇ ဧကတွင် Conducting services, studies, engineering, lifting and relocation of infrastructure components လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၂၃.၃.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၁/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၁၅)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်တောင်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
သန်လျင်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Silamas (Myanmar) Co., Ltd.
လက်ခံစာတွဲ/မျှောစာတွဲ

M4-9271
5.4.17

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁(၁၀၄/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Silamas (Myanmar) Co., Ltd. မှ Conducting services, studies, engineering, lifting and relocation of infrastructure components လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၃-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ န-၀၂၈/ ၂၀၁၇ (၁၁၉)

၁။ ထိုင်းနိုင်ငံ Silamas Transport Co., Ltd. မှ ၆၀%၊ ထိုင်းနိုင်ငံသား Mr. Patrick Michael Dick မှ ၃၀% နှင့် မြန်မာနိုင်ငံရှိ ဦးရဲဖုန်းလှိုင်မှ ၁၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားကုမ္ပဏီ Silamas (Myanmar) Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ တောင်ပိုင်းခရိုင်၊ သန်လျင်မြို့နယ်၊ ညောင်သုံးပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၆၆၈၊ မိုးကောင်းကွင်း၊ ဦးပိုင်အမှတ်-၂၀/ခ၊ ၂၁/က ရှိ မြေဧရိယာ ၂.၆၅ ဧက ( ၁၀၇၂၄.၁၇ စတုရန်းမီတာ) ပေါ်တွင် Conducting services, studies, engineering, lifting and relocation of infrastructure components လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာ ဖြင့်အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လွှာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၁၀) ဖြစ်ပြီး၊ တည်ဆောက်ရေး ကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းတွင် Providing specialized transport, engineered transport နှင့် lifting service in Myanmar ဟူ၍ လုပ်ငန်းအမျိုးအစား (၃) မျိုးရှိပြီ ကုန်ပစ္စည်းများ တစ်နေရာမှ တစ်နေရာသို့ ပို့ဆောင်ပေးခြင်း ဝန်ဆောင်မှုလုပ်ငန်းဖြစ်ကြောင်း၊

(ဂ) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ သဘာဝပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရေးအတွက် လုပ်ငန်းအဆင့်အသီးသီးအလိုက် ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီ

အစဉ် (EMP) ကိုပြုစုပြီးဖြစ်ကာ အစီအစဉ်အတိုင်း လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) အဆိုပါ Silamas Transport Co., Ltd. မှ Conducting services, studies, engineering, lifting and relocation of infrastructure components လုပ်ငန်းဆောင်ရွက်ရာတွင် အများပြည်သူအသုံးပြုသည့်လမ်းအားသုံး၍ဝန်ဆောင်မှုပေးသည့်လုပ်ငန်းဖြစ်သဖြင့် သယ်ယူပို့ဆောင်ရေးလုပ်ငန်းနှင့်သက်ဆိုင်ကာမော်တော်ယာဉ်နှင့်ပတ်သက်၍ ကုန်းလမ်းသယ်ယူပို့ဆောင်ရေးမှ လုပ်ငန်းလိုင်စင်ရယူရန်လိုအပ်ခြင်း၊

(ခ) ယာဉ်ယန္တယားများထားရှိရာ အဆိုပြုလုပ်ငန်းခွင်နေရာတွင် လုပ်ငန်းသုံးစက်နှင့် ယာဉ်ယန္တရားများ၏ ဆူညံ့အသံနှင့် ဖုန်မှုန့်များကြောင့် အသံညစ်ညမ်းမှု၊ လေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) ယာဉ်ယန္တယားများပြုပြင်ရာတွင် စက်ပစ္စည်းများ ဆေးကြောရာမှ ထွက်ရှိလာမည့်စွန့်ပစ်ပစ္စည်း/အရည်များကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

(ဃ) စွန့်ပစ်ပစ္စည်းများဖြစ်သော အမဲဆီ၊ အင်ဂျင်ဝိုင်၊ လောင်စာဆီစသည့် စွန့်ပစ် အဆီ/ အရည်/ အစိုင်အခဲများကြောင့် ပတ်ဝန်းကျင် မြေထု၊ ရေထု ညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

(င) အလုပ်သမားများနှင့် ရပ်ရှင်ကြည့်ပရိသတ်များမှ စွန့်ပစ်ပစ္စည်း အရည်၊ အစိုင်အခဲများစွန့်ပစ်ခြင်း၊ မိလ္လာ အညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ရေထု၊ မြေထု၊ လေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Silamas Transport Co., Ltd. မှ Conducting services, studies, engineering, lifting and relocation of infrastructure components လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် Machinery Waste, Electrical Waste နှင့် Chemical Waste များကိုမည်သို့ ထိန်းသိမ်းဆောင်ရွက်သွားမည် စသည့်လုပ်ငန်းဆောင်

ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ် (Waste Management Plan-WMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီအစီရင်ခံ ရေးသားတင်ပြရန်။

(ဂ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများကို ဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

၆/၅/၁၇

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

မင်း
၆/၅/၁၇

M4-0265
4.4.17

NPT.1875
4.4.17



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး



စာအမှတ်၊ ရထ-၂/ရန (MIC)/၂၀၁၇( ၅၇၇ )

ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၃၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်လည်တင်ပြရန်ကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ မတ်လ (၁၅)ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/န-၀၂၈/၂၀၁၇(၁၁၂)

၁။ ထိုင်းနိုင်ငံ Silamas Transport Co.,Ltd မှ ၆၀%၊ ထိုင်းနိုင်ငံသား Mr. Patrick Michael Dick မှ ၃၀%နှင့် မြန်မာနိုင်ငံမှ ဦးရဲဖုန်းလှိုင်မှ ၁၀% အစုရှယ်ယာထည့်ဝင်၍ မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားကုမ္ပဏီ Silamas (Myanmar)Co.,Ltd တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ တောင်ပိုင်းခရိုင်၊ သန်လျင်မြို့နယ်၊ ညောင်သုံးပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် ၆၆၈၊ မိုးကောင်းကွင်း၊ ဦးပိုင်အမှတ် ၂၀/ခ၊ ၂၁/က ရှိ မြေဧရိယာ ၁.၅၃၇ ဧကတွင် Conducting services, studies, engineering, lifting and relocation of infrastructure components လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာမှုအပေါ် သဘောထား ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်း(၂)ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်းနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီသာ ဆောင်ရွက်ခွင့်ပြုသင့်ကြောင်း ပြန်ကြားအပ်ပါသည်။

၃၀ ၊ ၃ ၊ ၂၀၁၇

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(သူရအောင်မျိုးမြင့်-ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူ။

- ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
- ကုန်းလမ်းပို့ဆောင်ရေး

NPT-1513
27.4.17

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၂၁ /ဌာနခွဲ -၂/MIC/၂၀၁၇(စီ ၅၆၂ )
ရက် စွဲ ၊ ၂၀၁၇ ခုနှစ် ဧပြီလ ၂၇ ရက်

Mq - 2308
28.4.17

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ (၁၅ - ၃ - ၂၀၁၇) ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/န-၀၂၈/၂၀၁၇(၁၁၁)

၁။ ထိုင်းနိုင်ငံ Silamas Transport Co., Ltd မှ (၆၀%)၊ ထိုင်းနိုင်ငံသား Mr. Patrick Michael Dick မှ (၃၀%) နှင့် မြန်မာနိုင်ငံ ဦးရဲဖုန်းလှိုင်မှ (၁၀%)ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားကုမ္ပဏီ Silamas (Myanmar) Co.,Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ တောင်ပိုင်းခရိုင်၊ သန်လျင်မြို့နယ်၊ ညောင်သုံးပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၆၆၈)မိုးကောင်းကွင်း၊ဦးပိုင်အမှတ် (၂၀/ခ) ၊ (၂၁/က) ရှိ မြေဧရိယာ(၁.၅၃၇) ဧကတွင် conducting services, studies, engineering, lifting and relocation of infrastructure components လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း အပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်မှ အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီအနေဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် အောက်ဖော်ပြပါအချက်များအား လိုက်နာဆောင်ရွက်သွားရန် လိုအပ်ပါမည် -

(က) Silamas(Myanmar) Co.,Ltd.တည်ထောင်မည့်မြေဧရိယာသည် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ လမ်းဦးစီးဌာနပိုင် လမ်းနယ်နိမိတ်နှင့်လွတ်ကင်းမှု ရှိ/မရှိ ကွင်းဆင်းစစ်ဆေးရန် လိုအပ်မည်ဖြစ်ပါသည် ။

(ခ) ကုမ္ပဏီမှဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းမှာ သယ်ယူပို့ ဆောင် ရေးလုပ်ငန်းဖြစ်သဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင် လမ်းများပေါ်တွင် ဖြတ်သန်းသွား

လာပါက သတ်မှတ်ထားသည့် (ယာဉ် + ကုန်) အလေးချိန်အတိုင်းသာ ဖြတ်သန်းခွင့်ပြုမည်ဖြစ်ပါသည် ။

(ဂ) တံတားများပေါ်သို့ ဖြတ်သန်းရာတွင် အများဆုံးဝင်ရိုး အလေးချိန် (၁၀) တန်နှင့် ယာဉ်တစ်စီးချင်း အများဆုံး (60) Metric Ton Truck ဖြတ်သန်းရန် ၊ ခံနိုင်ဝန်သတ်မှတ်ထားသောတံတားများအား သတ်မှတ်ခံနိုင်ဝန် အတွင်းသာ စက်/ယာဉ်/ယန္တရားများ ဖြတ်သန်းခွင့် ပြုနိုင်မည်ဖြစ်ပါသည် ။

(ဃ) သတ်မှတ်ထားသော အလေးချိန်ထက် ပိုမိုတင်ဆောင်လာသော တန်ပိုများအား (၁-၄-၂၀၁၇) ရက်နေ့မှ စတင်၍ ဖြတ်သန်းခွင့် ပြုမည်မဟုတ်ပါ။

(င) ဖြတ်တောက်၍မရသောပစ္စည်းများ (ဥပမာ - စက်ပစ္စည်းများ ၊ Transformar ကြီးများ) သယ်ဆောင်နိုင်ရန်အတွက် တန်ပိုကြေးအား B.O.T လမ်းပိုင်းများ၌ တစ်တန်တစ်မိုင်လျှင် (၄၀၀) ကျပ်နှုန်းဖြင့် လည်းကောင်း၊လေလံလမ်းပိုင်းများ၌ တစ်တန်တစ်မိုင်လျှင်(၂၀၀) ကျပ်နှုန်းဖြင့်လည်းကောင်း သယ်ဆောင်ရန်ခွင့်ပြုမည်ဖြစ်ပါသည် ။ (ဝင်ရိုးနှင့်ဘီးအရေအတွက်အရ (ယာဉ် + ကုန်) အလေးချိန် သတ်မှတ်ထားမှုအား ပူးတွဲဖော်ပြထားပါသည် ။)

၃။ သို့ဖြစ်ပါ၍ ထိုင်းနိုင်ငံ Silamas Transport Co., Ltd မှ conducting services, studies, engineering, lifting and relocation of infrastructure components လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းအပေါ် အထက်စာပိုဒ် ၊ ၂ ပါအတိုင်း သဘောထားမှတ်ချက်အား ပြန်ကြားပေးပို့အပ်ပါသည် ။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ကျော်လင်း၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ လမ်းဦးစီးဌာန ။

ညွှန်ကြားရေးမှူးချုပ်၊ တံတားဦးစီးဌာန ။

ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန ။

# ဝင်ရိုးနှင့်ဘီးအရေအတွက်အရ (ယာဉ်+ကုန်) အလေးချိန်သတ်မှတ်ခြင်း

မိုးတွင်းကာလသတ်မှတ်ချက် - မေလ (၁၆)ရက်မှ စက်တင်ဘာလ (၃၀)ရက်အထိ။ နွေကာလသတ်မှတ်ချက် - အောက်တိုဘာလ (၁)ရက်မှ မေလ (၁၅)ရက်အထိ။

| စဉ် | ယာဉ်အမျိုးအစား | မိုးတွင်းကာလ ခွင့်ပြုသည့် (ယာဉ်+ကုန်) တန် | နွေကာလ ခွင့်ပြုသည် (ယာဉ်+ကုန်) တန် |
|---|---|---|---|
| ၁ | ၂ | ၃ | ၄ |
| ၁ | သုံးဘီးဆိုင်ကယ်  ၀.၂၅ ၀.၇၅ | ၁ | ၁ |
| ၂ | ထော်လာဂျီ(ဒိန်းဒေါင်း)  ၀.၅ ၀.၅ | ၂ | ၂ |
| ၃ | **Farm Truck** (၂)လုံးတိုး  ၁.၂၅ ၂.၇၅ | ၄ | ၄ |
| ၄ | ဟိုင်းလပ်/လိုက်ထရပ်(သေး)  ၂.၂၅ တန်  ၂.၂၅ တန် | ၅ | ၅ |
| ၅ | ဒိုင်နာ/ကင်တာ(လတ်) လိုက်ထရပ်(လတ်) (၄)ဘီးကား  ၄ တန် | ၆ | ၆ |
| ၆ | **Farm Truck** (၄)လုံးတိုး ဒေါင်ဖန်း/လီဖန်း  ၁.၈ ၄.၂ | ၈ | ၈ |
| ၇ | ဒိုင်နာ/ကင်တာ လိုက်ထရပ်(ကြီး) (၆)ဘီးကား ကိုယ်ထည်အလျား(၁၅)ပေနှင့်အောက် မီနီဘတ်စ်(၂၄)ဦး ဟီးနိုး(သေး) (၂၅)ဦး  ၅.၅ တန်  ၆ တန်  ၇ တန်  ၆ တန် | ၉ | ၉ |
| ၈ | ဒိုင်နာ/ကင်တာ၊ (ကြီး) (၆)ဘီးကား ကိုယ်ထည်အလျား (၁၅)ပေအထက်  ၅.၅ တန်  ၅.၅ တန် | ၁၂ | ၁၂ |
| ၉ | **BM** ခရီးသည်ယာဉ်(လတ်) ခရီးသည် (၂၆ မှ ၃၅)ဦးထိ  ၄ ၉ | ၁၃ | ၁၃ |
| ၁၀ | ဟီးနိုး/ကာဂို/နီဆန်း/ ကွန်နို (၆)ဘီးကား ကုန်တင်ယာဉ်ကြီး   ၆ ၁၀  ၆ ၁၀ | ၁၆ | ၁၆ |
| ၁၁ | **TE-11, TE-21, GMC, Fuso, UD** ကောင်တာ (၆)ဘီးကား ကုန်တင်ယာဉ်ကြီး  ၆ ၁၀  ၆ ၁၀ | ၁၆ | ၁၆ |

# ဝင်ရိုးနှင့်ဘီးအရေအတွက်အရ (ယာဉ်+ကုန်) အလေးချိန်သတ်မှတ်ခြင်း

မိုးတွင်းကာလသတ်မှတ်ချက် - မေလ (၁၆)ရက်မှ စက်တင်ဘာလ (၃၀)ရက်အထိ၊ နွေကာလသတ်မှတ်ချက် - အောက်တိုဘာလ (၁)ရက်မှ မေလ (၁၅)ရက်ထိ

| စဉ် | ယာဉ်အမျိုးအစား | | မိုးတွင်းကာလ ခွင့်ပြုသည့် (ယာဉ်+ကုန်) တန် | နွေကာလ ခွင့်ပြုသည့် (ယာဉ်+ကုန်) တန် |
|---|---|---|---|---|
| ၁ | ၂ | | ၃ | ၄ |
| ၁၂ | ဟီးနိုး/ဟွန်ဒိုင်း/ဒေဝူး<br>ခရီးသည်ယာဉ် (ကြီး)<br>(ခရီးသည် ၃၆ မှ ၄၅)ဦးထိ | <br>၆ ၁၀ | ၁၆ | ၁၆ |
| ၁၃ | ခရီးသည်မှန်လုံယာဉ်ကြီး<br>(ခရီးသည် ၄၆ ဦးနှင့်အထက်) | <br>၇ ၁၁ | ၁၈ | ၁၈ |
| ၁၄ | (၆)ဘီးကား၊ ကုန်တင်ယာဉ်ကြီး | <br>၆ ၁၀ | ၁၆ | ၁၆ |
| ၁၅ | (၈)ဘီးကား | <br>၉ ၁၀ | ၂၀ | ၂၀ |
| ၁၆ | (၁၀)ဘီးကား | <br>၅ ၉ ၉ | ၂၃ | ၂၃ |
| ၁၇ | (၁၂)ဘီးကား | <br>၉ ၉ ၉ | ၂၇ | ၂၇ |
| ၁၈ | (၁၄)ဘီးကား **(Lift Axle)**<br>(ဘီးအားလုံးလမ်းပေါ်တွင်<br>ချ၍မောင်းနှင်ရမည်) | <br>၉ ၃ ၉ ၉ | ၃၀ | ၃၀ |
| ၁၉ | (၁၄)ဘီးတွဲကား | <br>၅ ၁၀ ၉ ၉ | ၃၃ | ၃၄ |
| ၂၀ | (၁၈)ဘီးတွဲကား | <br>၅ ၉ ၉ ၉ ၉ | ၄၀ | ၄၆ |
| ၂၁ | (၂၂)ဘီးတွဲကား | <br>၅ ၁၈ ၂၅.၅ | ၄၈ | ၅၀.၅ |

DG 42
20/4/17

DG 5
20/4

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံတော်ဗဟိုဘဏ်

စာအမှတ်၊ မဗဘ/ဘဏ်စိစစ်/၄(၈၉/၂၀၁၇)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Silamas (Myanmar) Co., Ltd ၏ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်တွင် ပြည်ပချေးငွေ အမေရိကန် ဒေါ်လာ ၂၅၀,၀၀၀ ပါဝင်သည့် ကိစ္စအပေါ် သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

P.951
7.4.17

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၃-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/န-၀၂၈/၂၀၁၇(၁၁၃)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းချက်ပါစာဖြင့် ထိုင်းနိုင်ငံ Silamas Transport Co., Ltd. မှ ၆၀%၊ ထိုင်းနိုင်ငံသား Mr. Patrick Michael Dick မှ ၃၀% နှင့် မြန်မာနိုင်ငံမှ ဦးရဲဖုန်းလှိုင်က ၁၀% ထည့်ဝင်တည်ထောင်မည့် Silamas (Myanmar) Co., Ltd. သည် Conducting Services, Studies, engineering, lifting and relocation of infrastructure components လုပ်ငန်း ဆောင်ရွက်ရန်အတွက် ချေးငွေ အမေရိကန်ဒေါ်လာ ၂၅၀,၀၀၀ ကို Silamas Transport Co., Ltd. နှင့် Mr. Patrick Michael Dick တို့ထံမှ ရယူလိုခြင်းအပေါ် သဘောထားမှတ်ချက် တောင်းခံလာခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံတော် ဗဟိုဘဏ်၏ သဘောထားမှတ်ချက်ကို အောက်ပါအတိုင်းပြန်ကြားအပ်ပါသည်-

(က) Form 1 အရ အဆိုပြုရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၅ သန်းဖြစ်ပြီး Annex 1 အရ Proposed Paid-up Capital မှာ အမေရိကန်ဒေါ်လာ ၀.၂၅ သန်း ဖြစ်ကြောင်းတွေ့ရှိရပါသည်။ ပြည်ပချေးငွေရယူမည့် လုပ်ငန်းအနေဖြင့် ပြည်တွင်းသို့ ငွေသားအဖြစ်လွှဲပို့မည့် Equity ပမာဏ အနည်းဆုံး အမေရိကန်ဒေါ်လာ ၅၀၀,၀၀၀ ရှိသင့်ပြီး၊ Equity ပမာဏ၏ အနည်းဆုံး ၈၀% ကို သက်ဆိုင်ရာဘဏ်က တစ်ဆင့် ပြည်ပမှ လွှဲပို့ပြီးဖြစ်ရပါမည်၊

(ခ) ပြည်ပချေးငွေ ပမာဏ၏ အနည်းဆုံး ၅၀% ကို ငွေသားအဖြစ် သက်ဆိုင်ရာဘဏ်မှ တစ်ဆင့် ပြည်ပမှ လွှဲပို့ရမည်ဖြစ်ပြီး ပြည်ပမှ ဝယ်ယူမည့် ပစ္စည်းများကို ပြည်တွင်းရှိ ဘဏ်များက တစ်ဆင့် ငွေပေးချေ၍ ဝယ်ယူတင်သွင်းနိုင်မည် ဖြစ်ပါသည်။

(ဂ) ယခု ရယူလိုသည့် ချေးငွေ အမေရိကန်ဒေါ်လာ ၂၅၀,၀၀၀ ကို In-kind သို့မဟုတ် In-cash ဖြစ်ကြောင်း ခွဲခြားဖော်ပြထားခြင်း မရှိသဖြင့် In-kind ဖြစ်ပါ က ၎င်းပစ္စည်း၏ တန်ဖိုးမှန်ကန်ကြောင်း Third-party valuation assessment တင်ပြခြင်း (သို့မဟုတ်) ပြည်ပချေးငွေကို ပြည်တွင်းသို့ သက်ဆိုင်ရာဘဏ်က တစ်ဆင့်လွှဲပို့ပြီး ပြည်တွင်းရှိ ဘဏ်တစ်ခုခုမှ တစ်ဆင့် Letter of Credit ဖြင့် ပြည်ပမှ ဝယ်ယူတင်သွင်းခြင်းတို့ဖြင့်သာ ပြည်ပချေးငွေကို ရယူနိုင်မည်ဖြစ်ပါသည်၊

(ဃ) Shareholder Loan ချေးငွေအနေဖြင့် အမေရိကန်ဒေါ်လာ ချေးငွေအပေါ် အမြင့်ဆုံးအတိုးနှုန်း ၅%(p.a) သို့မဟုတ် LIBOR + ၃.၅% ကိုသာ သတ်မှတ်ကောက်ခံနိုင်ပါမည်၊

(င) နိုင်ငံခြားငွေဖြင့် ချေးငွေပြန်လည်ဆပ်နိုင်မည့် Business Plan ကို တင်ပြရမည်ဖြစ်ပြီး ၎င်း Business Plan တွင် နိုင်ငံခြားငွေလဲလှယ်နှုန်းအပြောင်းအလဲ ±၂၀% ဖြစ်ပေါ်မှုကို Sensitivity Analysis ဖြင့် ထည့်သွင်းတွက်ချက် သင့်ပါသည်၊

၂။ သို့ဖြစ်ပါ၍ လက်ရှိအနေအထားတွင် ယင်းချေးငွေမှာ မြန်မာနိုင်ငံတော်ဗဟိုဘဏ်က လက်ခံနိုင်သည့်အနေအထား မရှိပါကြောင်းနှင့် ပြည်ပချေးငွေရယူနိုင်ရေးအတွက်လိုအပ်သည့် အထောက်အထားများကို ပြည့်စုံစွာ တင်ပြစေပြီးမှသာ ယခုချေးငွေကို ခွင့်ပြုသင့်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၁၂/၄/၂၀၁၉

ဥက္ကဋ္ဌ(ကိုယ်စား)

(ခင်စောဦး၊ ဒုတိယဥက္ကဋ္ဌ)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ နိုင်ငံခြားသုံးငွေစီမံခန့်ခွဲမှုဌာန

Silamas (Myanmar) Co., Ltd.

ရုံးလက်ခံ